# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၂၁၀/၉၈          ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာ လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး အေး ဝင်း

(ခ) အဘအမည် ဦး ဘွန်ဝါ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် MGIE – ၀၀၃၄၀၀

(ဃ) နေရပ်လိပ်စာ ၆၃၊ ဥယျာဉ်လမ်း ၊ ကြည့်မြင်တိုင်မြို့နယ် ၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ရွှေသရဝဏ် ရှေ့ဆောင် ရေလုပ်ငန်းကုမ္ပဏီလီမိတက် (Shwe Tharawun Shae Hsaung Fishery Co.,Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ရေခဲထုတ်လုပ်ခြင်း နှင့်အအေးခန်းတည် ဆောက်၍ ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ၁၂၊ဆက်ရိုးကျအလယ်၊ သံတော်ဘီရပ်ကွက်၊ မြေကွက်အမှတ် ၁၄၆မှ ၁၅၂ အထိနှင့် ၁၅၇၊ ၁၅၈ ၊ စစ်တွေမြို့နယ်၊ ရခိုင်ပြည်နယ်။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ( ၄၄.၀၀ ) သန်း
( ကျပ် လေး ဆယ့် လေး သန်း တိတိ )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၀၇/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ နတ်တော်လဆန်း ၇ ရက်။
(၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.) တည်ထောင်၍ ကုမ္ပဏီအမည်ဖြင့် စစ်တွေခရိုင် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ စက်မှုမြေအဖြစ် ချပေးထားသော မြေကွက်အမှတ် ၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂၊ ၁၅၇၊ ၁၅၈၊ ဆက်ရိုးကျွအလယ် သံတော်လီရပ်ကွက်ရှိ မြေ(၅.၆၁၅)ဧက (၂၂၇၂၃.၁၁၈ စတုရန်းမီတာ)ပေါ်တွင် အအေးခန်း တည်ဆောက်၍ ငါး၊ ပုဇွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား(၂၃–၁၀–၉၈)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၉၈)ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၁၉–၁၁–၉၈)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၀/၉၈) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက်(Shwe Tharawun Shae Hsaung Fishery Co., Ltd.)အား အအေးခန်း တည်ဆောက်၍ ငါး၊ ပုဇွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ–၂၁၀/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်မှာ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၇၇/၉၆ အရ အကျုံးဝင်ပြီးဖြစ်သည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့် စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၉၈/၉၈ (၅၉၉၃)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ ပြည်နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ ရခိုင်ပြည်နယ် စစ်တွေမြို့။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ခရိုင် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ စစ်တွေခရိုင်၊ စစ်တွေမြို့။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၈။ ဒါရိုက်တာ၊ ရွှေ သရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီ လီမိတက် (Shwe Tharawun Shae Hsaung Fishery Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၉၂၆/၉၀(၁၁၁၄)
ရက်စွဲ၊ ၁၉၉၀ခုနှစ်၊ နိုဝင်ဘာလ ၅ ရက် ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ ရွှေသရဝတ်ရှေ့ဆောင်ရေလုပ်ငန်းကုမ္ပဏီလီမိတက် တည်ထောင်၍ရေခဲထုတ်လုပ်ခြင်းနှင့်ငါး၊ပုဇွန်ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေသရဝတ်ရှေ့ဆောင်ရေလုပ်ငန်းကုမ္ပဏီလီမိတက် ( Shwe Tharawun Shae Hshaung Fishery Co., Ltd. ) တည်ထောင်၍ ရေခဲထုတ်လုပ်ခြင်းနှင့်ငါး ၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ( ၂၃-၁၀-၉၀ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၉/၉၀ )ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ၊ ယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ် ( မူကြမ်း )ကို <u>နောက်ဆက်တွဲ ( ၁ )</u> အဖြစ်ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာအမေရိကန်ဒေါ်လာ (၀.၉၄၄)သန်း အပါအဝင်စုစုပေါင်း ကျပ်(၄၄.၀၀)သန်း ဖြစ်ပါသည်။ ယင်း တွင် ငွေသားကျပ် ( ၀.၈၄ )သန်း ၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ် ( ၂၄.၁၀ ) သန်း [အမေရိကန်ဒေါ်လာ ( ၀.၈၃၅ )သန်း အပါအဝင်]၊ အဆောက်အဦတန်ဖိုး ကျပ် ( ၁၇.၂၇ )သန်း [အမေရိကန်ဒေါ်လာ ( ၀.၁၀၉ )သန်း အပါအဝင်]၊ ပရိဘောဂ နှင့်လုပ်ငန်းသုံး ပစ္စည်း တန်ဖိုး ကျပ် ( ၀.၄၀ )သန်း နှင့်ကုန်ကြမ်း တန်ဖိုး ကျပ် ( ၀.၄၀ )သန်း ထည့်ဝင်ရင်းနှီး မည်ဖြစ်ပါသည်။ စက်ပစ္စည်း နှင့် ဆောက်လုပ်ရေး

လျှို့ဝှက်

ပစ္စည်းများကိုစင်ကာပူနိုင်ငံ PL International Pte Ltd. - မှ ငွေဆိုင်း ငွေပေးချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း(၃.၅)ရာ နိုင်နှုန်းဖြင့်(၃)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ကုမ္ပဏီအမည်ဖြင့်စစ်တွေခရိုင်အေးချမ်းသာယာဝရေး နှင့်ဖွံ့ဖြိုးရေး ကောင်စီမှ စက်မှုမြေအဖြစ်ချပေးထားသော မြေကွက်အမှတ်၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂၊ ၁၅၇နှင့်၁၅၈၊ ဆတ်ရိုးကျအလယ်၊ သံတော်လဲရပ်ကွက် ရှိမြေ(၅.၆၀၅) ဧက(၂၂၇၂၃.၁၁၈စတုရန်းမီတာ) ပေါ်တွင်အအေးခန်းတည်ဆောက်၍ ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း၊ သိုလှောင်ခြင်းနှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ရေခဲကိုပြည်တွင်း၌သာ ရောင်းချမည်ဖြစ်ပါသည်။ ငါးကိုပြည်တွင်း (၉၀)ရာခိုင်နှုန်း နှင့်ပြည်ပသို့(၁၀)ရာခိုင်နှုန်း တင်ပို့မည်ဖြစ်ပြီး ပုစွန်ကိုမူရာခိုင်နှုန်း ပြည့်ပြည်ပသို့တင်ပို့မည်ဖြစ်ပါသည်။ နှစ်စဉ်ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ပြည်တွင်း | | ပြည်ပ | |
|---|---|---|---|---|---|---|
| | | | ထုတ်လုပ်မှု | ရောင်းဈေး (ကျပ်) | ထုတ်လုပ်မှု | ရောင်းဈေး ( US$ ) |
| ၁ | ရေခဲ(ပေါင်၃၀၀တုံး) | တုံး | ၆၇၅၀၀ | ၃၀၀ | - | - |
| ၂ | ငါး | တန် | ၄၃၂၀ | ၃၀၆၂၀၀ | ၄၈၀ | ၂၀၀၀ |
| ၃ | ပုစွန် | တန် | - | - | ၉၀၀ | ၇၀၀၀ |

၅။ ဤလုပ်ငန်းအတွက်လိုအပ်သော ငါး၊ ပုစွန်ကုန်ကြမ်းများကိုပြည်တွင်း မှဝယ်ယူမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၅၆၈.၀၃ | ၄၃.၅၆ | ၁၆၁၁.၅၉ |
| (ခ) | အသုံးစရိတ် | ၁၆၀၀.၉၄ | ၁၁.၀၀ | ၁၆၁၁.၉၄ |
| (ဂ) | အသါးတင်အမြတ်/အရှုံး | (-)၃၂.၉၁ | ၃၂.၅၆ | (-) ၀.၃၅ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | |
|---|---|
| (က) ဝင်ငွေနှုန်း (အမေရိကန်ဒေါ်လာသန်း) | ၀.၉၆ |
| (ခ) ပါးလုပ်ငန်းနှုန်း (အမေရိကန်ဒေါ်လာသန်း) | ၀.၇၃ |
| (ဂ) ကုန်သွယ်လုပ်ငန်းနှုန်း (ကျပ်သန်း) | ၂.၀၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်းမှ ဝန်ထမ်း (၅၀) ဦးခန့်ထားမည်ဖြစ်ပါသည်။

၉။ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သည့်အပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ သတ်မှတ်မည့်စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ငွေချေးသူ၏တာဝန်သာဖြစ်ကြောင်း၊ ချေးငွေပြန်လည်ပေးဆပ်ရာတွင် လုပ်ငန်းမှရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်ပေးချေမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပသို့တင်ပို့ရန်ဈေးကွက်ရှိပြီးဖြစ်ကြောင်းနှင့် ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက် လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) ရွှေသရဖီ ရွှေဆောင် ရေလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ရေခဲထုတ်လုပ်ခြင်း ၊ ငါး ၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်သဘောတူ - မတူ။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်။

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ် မောင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။